# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-...၆၇၉.../၂၀၀၇။ ၂၀၀၇ ခုနှစ်၊ ဇူလိုင် လ ၃၁ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ... ဦးမောင်အေး (ခ) ဦးလှကျွန်

(ခ) အဘအမည် ... ဦးလှစိုး

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ... ၁၃/ကခန(နိုင်)၀၂၀၂၇၃

(ဃ) နေရပ်လိပ်စာ ... အမှတ်၊ ၅၁၂/၅၄၃၊ ၇၁လမ်း၊ ၃၅-၃၆လမ်းကြား မဟာအောင်မြေမြို့နယ်၊ မန္တလေးမြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ... ဂွတ်(ဒ်)ဘရားသား(စ်)မက်ရှင်နရီကုမ္ပဏီလီမိတက် ( Good Brothers Machineries Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ... စပါးရိတ်သိမ်းခြွေလှေ့စက်ထုတ်လုပ်ခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ... အမှတ်နန-၄၆/၁၊ နန-၄၆/၂၊စက်မှုတိုးချဲ့ဇုန်၊ မန္တလေးစက်မှုဇုန်၊ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးတိုင်း

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ... ၁၂၀၄.၀၀ (သန်း) (ကျပ်သန်းတစ်ထောင့်နှစ်ရာ့လေးတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၁၉ /၂၀၀၈ (မနသ)

ရန်ကုန်မြို့ ၊ ၁၃၇၀ ခုနှစ် ၊ ဝါဆိုလပြည့်ကျော်၁၄ ရက်

(၂၀၀၈ ခုနှစ် ၊ ဇူလိုင် လ ၃ ၁ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော ဂွတ်(ဒ်)ဘရားသား(စ်) မစ်ရှင်နရီ ကုမ္ပဏီ လီမိတက် (Good Brothers Machineries Co., Ltd) မှ ကုမ္ပဏီအမည်ဖြင့် မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီမှ အသုံးပြုခွင့်ရရှိထားသော အမှတ် နန-၄၆/၁၊နန-၄၆/၂ ၊ စက်မှုတိုးချဲ့ဇုန်၊ မန္တလေး စက်မှုဇုန်၊ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေး တိုင်းရှိ၊ စက်မှုမြေ (၆.၂၆)ဧက တွင် စပါးရိတ်သိမ်းချွေလှေ့စက် ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာ နိုင်ငံသား များ ရင်းနှီး မြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား (၉-၄-၂၀၀၈)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၂/၂၀၀၈)အစည်းအဝေး၌ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၁၁-၆-၂၀၀၈)နေ့တွင် ကျင်းပသောကုန်သွယ်မှု မူဝါဒကောင်စီ၏ (၁၈/၂၀၀၈) ၊ အစည်းအဝေးသို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘော တူညီချက် အရ ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ အဖွဲ့၏ ( ၂၅/၂၀၀၈ ) (၁၈-၇-၂၀၀၈) အစည်းအဝေးသို့ တင်ပြခဲ့ရာ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံ သားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ဂွတ်(ဒ်)ဘရားသား(စ်) မစ်ရှင်နရီ ကုမ္ပဏီ လီမိတက် (Good Brothers Machineries Co., Ltd) အားစပါးရိတ်သိမ်း ချွေလှေ့စက် ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၆၈၉/၂၀၀၈ ကို ထုတ်ပေးလိုက်သည်။

၂။ ဂွတ်(ဒ်) ဘရားသား(စ်) မစ်ရှင်နရီ ကုမ္ပဏီ လီမိတက် (Good Brothers Machineries Co., Ltd) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက် ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပြုလိုက် သည်။

၃။ ဂွတ်(ဒ်) ဘရားသား(စ်) မစ်ရှင်နရီ ကုမ္ပဏီ လီမိတက် (Good Brothers Machineries Co., Ltd) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြ ထားသည့် ထုတ်လုပ်မှု ရည်မှန်းချက်ကို အနိမ့်ဆုံး ရည်မှန်းချက် အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၄။ ဂွတ်(ဒ်) ဘရားသား(စ်) မစ်ရှင်နရီ ကုမ္ပဏီ လီမိတက် (Good Brothers Machineries Co., Ltd) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၇။ ဂွတ်(ဒ်) ဘရားသား(စ်) မစ်ရှင်နရီ ကုမ္ပဏီ လီမိတက် (Good Brothers Machineries Co., Ltd) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့် အတိုင်းစံနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင် ခံရမည်။

၈။ ဂွတ်(ဒ်) ဘရားသား(စ်) မစ်ရှင်နရီ ကုမ္ပဏီ လီမိတက် (Good Brothers Machineries Co., Ltd) သည် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်း စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိရမည်။

၉။ ဂွတ်(ဒ်) ဘရားသား(စ်) မစ်ရှင်နရီ ကုမ္ပဏီ လီမိတက် (Good Brothers Machineries Co., Ltd) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင် ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင် အထည် ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ / အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၀။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ် လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ် ) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၁။ ဂွတ်(ဒ်) ဘရားသား(စ်) မစ်ရှင်နရီ ကုမ္ပဏီ လီမိတက် (Good Brothers Machineries Co., Ltd) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာန များမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု

မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်း ခံရမည်။

၁၂။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်မည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်း က ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင် ရေးအတွက်သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၃။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က) /မ- ၉၉၇/၂၀၀၈( ၁ ၁၈၆ ၇ )

ရက်စွဲ၊ ၂၀၀၈ခုနှစ်၊ ဇူလိုင် လ ၃ ၁ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။
၃။ အစိုးရ အဖွဲ့ရုံး။
၄။ အမှတ်(၂) စက်မှု ဝန်ကြီးဌာန။
၅။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၆။ အလုပ်သမား ဝန်ကြီးဌာန။
၇။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၈။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။
၉။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။
၁၀။ လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။

၁၁။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။
၁၂။ ပြည်ထဲရေးဝန်ကြီးဌာန။
၁၃။ ဥက္ကဋ္ဌ၊နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့ငယ်။(ပို့ဆောင်ရေး ဝန်ကြီးဌာန)
၁၄။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၅။ မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီရုံး။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ မြန်မာ့စက်မှုလုပ်ငန်းများ စီမံကိန်း ညွှန်ကြားမှုဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။
၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၄။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၆။ ဥက္ကဋ္ဌ၊ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်။
၂၇။ အုပ်ချုပ်မှု ဒါရိုက်တာ၊ ဂွတ်(ဒ်) ဘရားသား(စ်) မစ်ရှင်နရီ ကုမ္ပဏီ လီမိတက် (Good Brothers Machineries Co., Ltd)

အထွေထွေ အရပ်ရပ်-၁၆
(ရုံးတွင်းစာအကျဉ်းချုပ်(သို့မဟုတ်) စာကြမ်းရေးရန်)

ရက်စွဲ၊ ၂၀၀၈ ခုနှစ်၊ ဇူလိုင် လ ၃၀ ရက်။

အကြောင်းအရာ။ ။ ဂွတ်(ဒ်)ဘရားသား(စ်) မစ်ရှင်နရီကုမ္ပဏီလီမိတက် (Good Brothers Machineries Co., Ltd)မှ စပါးရိတ်သိမ်းခြွေလှေ့စက်ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကိစ္စ။

၁။ ဂွတ်(ဒ်) ဘရားသား(စ်) မစ်ရှင်နရီ ကုမ္ပဏီ လီမိတက် (Good Brothers Machineries Co., Ltd)မှ ကုမ္ပဏီအမည်ဖြင့် မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီမှ အသုံးပြုခွင့် ရရှိထားသော အမှတ် နန-၄၆/၁၊ နန-၄၆/၂၊ စက်မှုတိုးချဲ့ဇုန်၊ မန္တလေးစက်မှုဇုန်၊ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးတိုင်းရှိ စက်မှုမြေ (၆.၂၆)ဧကတွင် စပါးရိတ်သိမ်း ခြွေလှေ့စက် ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြချက်အား (၉-၄-၂၀၀၈)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ (၁၂/၂၀၀၈) အစည်းအဝေး၌ တင်ပြခဲ့ပါ သည်။

၂။ ကော်မရှင် မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၁၁-၆-၂၀၀၈) နေ့ တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၁၈/၂၀၀၈)၊ အစည်းအဝေးသို့ ဆက်လက်တင်ပြခဲ့ ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက်အရ ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရအဖွဲ့ ၏ (၂၅/၂၀၀၈)(၁၈-၇-၂၀၀၈)အစည်းအဝေးသို့တင်ပြခဲ့ရာသဘောတူကြောင်းဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ နှင့် ယင်း ဥပဒေ ဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း(၄)၊ အပိုဒ် ၁၂တို့ နှင့်အညီ ဂွတ်(ဒ်) ဘရားသား(စ်) မစ်ရှင်နရီ ကုမ္ပဏီလီမိတက် (Good Brothers Machineries Co., Ltd) အား စပါးရိတ်သိမ်း ခြွေလှေ့စက် ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် ထုတ်ပေးမည့် ခွင့်ပြုမိန့် နှင့် အမိန့် ကြော်ငြာစာ တွင်လက် မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

(ဗိုလ်မှူးကြီးသူရိန်ဇော်)
အတွင်းရေးမှူး

ဥက္ကဋ္ဌ

ပြည်ထောင်စုမြန်မာနိုင်ငံတော်
အစိုးရအဖွဲ့

စာအမှတ်၊ ၇၈/ ၁၄၈ / အဖရ (၂၅/၂၀၀၈)။
ရက်စွဲ၊ ၂၀၀၈ ခုနှစ်၊ ဇူလိုင်လ ၂၈ ရက်။

**အ မှာ စာ**

အကြောင်းအရာ။ ဂွတ်(ဒ်) ဘရားသား(စ်) မစ်ရှင်နရီ ကုမ္ပဏီ လီမိတက် (Good Brothers Machineries Co., Ltd ) မှစပါးရိတ်သိမ်းခြွေလှေ့စက်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကိစ္စ။

၁။ ၂၀၀၈ ခုနှစ် ၊ ဇူလိုင်လ ၁၈ ရက် (သောကြာ) နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် ( ၂၅ /၂၀၀၈ ) မှတ်တမ်း ကောက်နုတ်ချက်ကို ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကို ရရှိကြောင်းပြန်ကြားရန်နှင့် ဌာနဆိုင်ရာအရေးယူ ဆောင်ရွက်ချက်ကိုလည်း ပြန်လည်အစီရင်ခံတင်ပြရန် ဖြစ်ပါသည်။

အတွင်းရေးမှူး( ကိုယ်စား )
(အောင်လွင်ဦး)

**ဥက္ကဋ္ဌ**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

၇၈။ ဂွတ်(ဒ်) ဘရားသား(စ်) မစ်ရှင်နရီ ကုမ္ပဏီလီမိတက် ( Good Brothers Machineries Co., Ltd ) မှ စပါးရိတ်သိမ်းခြွေလှေ့စက် ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကိစ္စ။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၀၈ ခုနှစ်၊ ဇူလိုင်လ ၁၀ ရက်နေ့စွဲပါ အမှာစာအမှတ်၊ ရက-၆(ခ)/မ-၁၄၄၈/၂၀၀၈(၁၁၀၉၆)။ အမှာစာကို သဘောတူကြသည်။

ဆောင်ရွက်ရန်၊
ရင်းနှီးမြှုပ်နှံမှု။



28-2008 (YelloW)

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/မ- ၁၄၄၈/၂၀၀၈(၁၁၀၉၆)
ရက်စွဲ ၊ ၂၀၀၈ခုနှစ် ၊ ဇူလိုင် လ ၁၀ ရက်။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြသည့်
အမှာစာ

အကြောင်းအရာ။ ။ ဂွတ်(ဒ်)ဘရားသား(စ်)မစ်ရှင်နရီကုမ္ပဏီလီမိတက်(Good Brothers Machineries Co., Ltd ) မှ စပါးရိတ်သိမ်းချွေလှေ့စက် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ဂွတ်(ဒ်) ဘရားသား(စ်) မစ်ရှင်နရီ ကုမ္ပဏီလီမိတက် သည် ကုမ္ပဏီ၏ အမည်ဖြင့် မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီမှ အသုံးပြုခွင့် ရရှိထားသော အမှတ် နန-၄၆/၁၊ နန-၄၆/၂၊ စက်မှုတိုးချဲ့ဇုန်၊ မန္တလေးစက်မှုဇုန်၊ ပြည်ကြီးတံခွန် မြို့နယ် ၊ မန္တလေး တိုင်း ရှိ စက်မှုမြေ (၆.၂၆) ဧက ( ၂၅၃၃၃.၃၄ စတုရန်းမီတာ ) တွင် စပါးရိတ်သိမ်းချွေလှေ့စက် ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ အဆိုပြုချက်ကို နောက်ဆက်တွဲ (က) ဖြင့် တင်ပြထားပါသည်။

၂။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ ကျပ်(၁၂၀၄.၀၀)သန်း ဖြစ်ပါသည်။ လုပ်ငန်း အတွက် အသုံးပြုရန် လိုအပ်သော စက်ပစ္စည်းများနှင့် စပါးရိတ်သိမ်းချွေလှေ့စက် ထုတ်လုပ်ရန် နှစ်စဉ်လိုအပ်မည့် အင်ဂျင်၊ ဂီယာ ဘောက်၊ ရာဘာ ချိန်းဘဲလ်၊ သံလုံး၊ သံပြားများကို ၎င်း၏ ညီနောင်ကုမ္ပဏီဖြစ်သော Good Brothers Co., Ltd. မှ တာဝန်ယူ တင်သွင်းပေးမည် ဖြစ်ကြောင်း နှင့် Good Brothers Co., Ltd. ၏ မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေး ဘဏ် ရှိ နိုင်ငံခြားငွေအထောက်အထားကို တင်ပြ ထားပါသည်။

၃။ အဆိုပြုလုပ်ငန်းမှ ပုံမှန်နှစ်တွင် စပါးရိတ်သိမ်း ချွေလှေ့စက် (၃၅၀)ယူနစ် ထုတ်လုပ် မည်ဖြစ်ပြီး ပြည်တွင်း၌ (၁၀၀)ရာခိုင်နှုန်း ရောင်းချမည်ဖြစ်ပါသည်။ တစ်ယူနစ် ရောင်းဈေးနှုန်းမှာ ကျပ် (၁၂.၈၀)သန်း ဖြစ်ပါသည်။

၄။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၄)နှစ် နှင့် (၃)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၂၂.၁၀) ရာခိုင်နှုန်း ဖြစ်ပါသည်။

၅။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုး အမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(က) ဝင်ငွေခွန် ကျပ် ၁၁၇.၀၀ သန်း
(ခ) ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၄၄၈.၀၀ သန်း

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ လုပ်သား(၅၆)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်ပါ သည်။

၇။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာ ဝန်ကြီးဌာနများ မှ အောက်ပါအတိုင်း သဘောထား ပြန်ကြားထားပါသည်။

- အမှတ်(၂) လျှပ်စစ်ဓာတ်အား ဝန်ကြီးဌာနက လုပ်ငန်းအတွက် လိုအပ်သော လျှပ်စစ်ဓါတ်အား ဖြန့်ဖြူးပေးနိုင်ပါကြောင်း၊
- မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီက အဆိုပြုတင်ပြချက်ပါ မြေများ သည် မန္တလေးမြို့ မြို့ကွက်သစ်ဖော်ထုတ်ရေး လုပ်ငန်း အဖွဲ့မှ ကုမ္ပဏီအား စက်မှုလုပ်ငန်း လုပ်ကိုင်ရန် ချထားပေးသော မြေများဖြစ်၍ ကန့်ကွက်ရန်မရှိ ကြောင်း၊ ကုမ္ပဏီ အနေဖြင့် လုပ်ငန်းဆောင်ရွက်နေမှု မရှိသေးကြောင်း၊ ဝင်းခတ် ပြီး အဆောက်အဦ ဆောက်လုပ်ရန် အုတ်မြစ်ချပြီး အဆင့်သာရှိကြောင်း၊
- အမှတ်(၂) စက်မှုဝန်ကြီးဌာနက ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အမျိုးအစား ညီညွတ်မှုရှိကြောင်း၊ စက်ပစ္စည်းဈေးနှုန်းနှင့် ကုန်ချောဈေးနှုန်းများ တင်ပြထားမှုသည် သီလျော်မှုရှိကြောင်း၊ နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား အမျိုး အစား ညီမျှမှုရှိကြောင်း၊ နည်းပညာရပ်ပိုင်းဆိုင်ရာ ပြည့်စုံလုံလောက်မှု ရှိပါကြောင်း၊

၈။ ငွေကြေးဆိုင်ရာ အထောက်အထားအဖြစ် ကုမ္ပဏီအမည်ဖြင့် မြန်မာ့ရင်းနှီး မြှုပ်နှံမှု နှင့်ကူးသန်းရောင်းဝယ်ရေးဘဏ် (MICB) ရှိ နိုင်ငံခြားငွေ အထောက်အထားတင်ပြထားရာ လုပ်ငန်းဆောင်ရွက်နိုင်ကြောင်း တွေ့ရပါသည်။

၉။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ပိုင်ဆိုင်မှု ပတ်ဝန်းကျင် ညစ်ညမ်းမှုနှင့် မီးဘေး အန္တရာယ် မဖြစ်ပွားစေရန် လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများကို ညွှန်ကြားချက်နှင့် အညီ လိုက်နာဆောင်ရွက်မည် ဖြစ်ပါကြောင်း ဝန်ခံကတိပြု ထားပါသည်။

၁၀။ ကုမ္ပဏီမှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားဖြစ် လုပ်ငန်း စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃အရ လုပ်ငန်းနှင့်သက်ဆိုင်သည့် အခွန်ဆိုင်ရာကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို လျှောက်ထားလာပါက ခံစားခွင့် ပေးရမည် ဖြစ်ပါသည်။

၁၁။ အထက်ပါ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်း၍ (၁၁-၆-၂၀၀၈)နေ့တွင် ကျင်းပ ပြုလုပ်သည့် ကုန်သွယ်မှု မူဝါဒကော်မတီ ၏ ( ၁၈/၂၀၀၈ ) အစည်းအဝေး မှ လုပ်ငန်း ဆောင်ရွက်ခွင့် ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

ဒါရိုက်တာများနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များအမည် | ဒါရိုက်တာ/ အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | ဂွတ်(ဒ်)ဘရားသား(စ်) မစ်ရှင်နရီကုမ္ပဏီလီမိတက် (Good Brothers Machineries Co., Ltd.) | ၁။ ဦးမောင်အေး(ခ) ဦးလီကျန် (အုပ်ချုပ်မှုဒါရိုက်တာ) | အမှတ်-၅၁၂/၅၄၃၊ (၈၁)လမ်း၊ (၃၅)လမ်းနှင့် (၃၆)လမ်းကြား မဟာအောင်မြေ မြို့နယ်၊ မန္တလေးမြို့။ |
| | | ၂။ ဦးလှဦး (ဒါရိုက်တာ) | အမှတ်-၂၂၊ သီရိမွန်အိမ်ရာ၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၃။ ဦးမောင်မောင်ထွေး (ခ) ဦးမောင်လီဖူး (ဒါရိုက်တာ) | အမှတ်-၁၅၇/၃၃လမ်း၊ (၇၅)လမ်းနှင့် (၇၆)လမ်းကြား ချမ်းအေးသာစံမြို့နယ်၊ မန္တလေးမြို့။ |
| | | ၄။ ဦးမောင်ငယ် (ဒါရိုက်တာ) | အမှတ် ၅၁၂-၅၄၃၊ (၈၁)လမ်း၊ (၃၅)လမ်းနှင့် (၃၆)လမ်းကြား မဟာအောင်မြေမြို့နယ်၊ မန္တလေးမြို့။ |
| | | ၅။ ဦးဇော်ဇော်လေး (ဒါရိုက်တာ) | အမှတ် ၅၁၂-၅၄၃၊ (၈၁)လမ်း၊ (၃၅)လမ်းနှင့် (၃၆)လမ်းကြား မဟာအောင်မြေမြို့နယ်၊ မန္တလေးမြို့။ |

| | | |
|---|---|---|
| ၁။ ကုမ္ပဏီ၏ တယ်လီဖုန်းအမှတ်/ | - | ၀၁-၆၈၂၁၅၇၊ ၆၈၂၁၄၇၊ ၆၈၀၆၆၇ |
| ဖက်စ်နံပါတ် | - | ၀၁-၆၈၀၄၁၃ |
| ၂။ ကုမ္ပဏီ၏ လိပ်စာအပြည့်အစုံ | - | အမှတ်-၂၂၊ ဘုရင့်နောင်လမ်းမ၊ သီရိမွန်အိမ်ရာ၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |
| ၃။ ကုမ္ပဏီ၏ ဆက်သွယ်ရမည့်ပုဂ္ဂိုလ် အမည်/ရာထူး | - | ဦးမောင်အေး(ခ) ဦးလီကျန် |
| ၄။ ကုမ္ပဏီအနေဖြင့် ဆောင်ရွက်သည့် လုပ်ငန်းများ | - | ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း |
| ၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့်ရက်စွဲ | - | ၄၂၇/၁၉၉၈-၉၉ (၁၇-၇-၁၉၉၈) |
| ၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်း ကုန်ဆုံးသည့် နေ့စွဲ | - | ၃၁-၈-၂၀၀၉ |
| ၇။ ဘဏ်အမည်နှင့်ငွေစာရင်းအမှတ် | - | မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့်ကူးသန်းရောင်းဝယ်ရေးဘဏ် FDG - 10 - 0275 |

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ကုန်သွယ်မှုမူဝါဒကောင်စီ

၂၀၀၈ခုနှစ်၊ ဇွန်(၁၁)ရက်နေ့တွင်ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒ ကောင်စီ အစည်းအဝေးအမှတ်စဉ် (၁၈/၂၀၀၈) မှတ်တမ်းကောက်နှုတ်ချက်။

| အစည်းအဝေး အမှတ် အစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၇/၁၈ | ၅၉၀ | ဂွတ်(ဒ်) ဘရားသား(စ်) မစ်ရှင်နရီ ကုမ္ပဏီလီမိတက် (Good Brothers Machineries Co., Ltd.) မှ စပါးရိတ်သိမ်းခြွေလှေ့စက် ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုကြောင်း ဆုံးဖြတ်ပါသည်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် |

ပြည်ထောင်စုမြန်မာနိုင်ငံတော်
စာအမှတ်
ရက်စွဲ ၁၁-၆-၀၈
ကုန်သွယ်မှုမူဝါဒကောင်စီ



kko /sk 2-6-2008

# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
# အမှတ်(၂)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
## ဝန်ကြီးရုံး
## နေပြည်တော်

စာအမှတ်၊ ၇/ ရင်းနှီးမြှုပ်နှံမှု(ခစ)/၅၁၂ / ၂၀၀၈)။
ရက်စွဲ၊ ၂၀၀၈ ခုနှစ်၊ မတ်လ( ၃၀ ) ရက်။

အကြောင်းအရာ ။ ။ သဘောထားမှတ်ချက် ပြန်ကြားခြင်း ကိစ္စ။

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀-၂-၂၀၀၈ ရက်စွဲပါ စာအမှတ်၊ ရက-၆(က) / မ-၉၉၇/၂၀၀၈(၃၇၂၀)။

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ မန္တလေးတိုင်း၊ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးစက်မှုတိုးချဲ့ဇုန်ရှိ ဂွတ်ဘရားသားစ် မစ်ရှင်နရီ ကုမ္ပဏီလီမိတက်၏ စပါးရိတ်သိမ်း ချွေလှေ့စက်ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန် လျှပ်စစ်ဓာတ်အားလိုအပ်ချက်နှင့် စပ်လျဉ်း၍ အမှတ် (၂) လျှပ်စစ်စွမ်းအားဝန်ကြီးဌာနအပေါ် သဘောထားမှတ်ချက် တောင်းခံသည့် ရည်ညွှန်းပါစာအား လက်ခံရရှိခဲ့ပါသည်။

၂။ အဆိုပါကိစ္စနှင့် စပ်လျဉ်း၍ မန္တလေးတိုင်း၊ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးစက်မှုတိုးချဲ့ဇုန်ရှိ ဂွတ်ဘရားသားစ် မစ်ရှင်နရီ ကုမ္ပဏီလီမိတက်၏ လျှပ်စစ်ဓာတ်အား လိုအပ်ချက် (၄၅၀) ကီလိုဝပ်အား ဖြန့်ဖြူးပေး နိုင်ပါကြောင်း အကြောင်း ပြန်ကြားအပ်ပါသည်။

ဒုတိယဝန်ကြီး ( ကိုယ်စား )
( ဒေါက်တာသိန်းထွန်း၊ ညွှန်ကြားရေးမှူးချုပ် )

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ
မန္တလေးမြို့

စာအမှတ်၊ ၁၀၇၁/၉/အယလ(၃၂၂)
ရက် စွဲ၊ ၂၀၀၈ ခုနှစ်၊ ဧပြီလ ၇ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀-၂-၂၀၀၈ ရက်စွဲပါစာအမှတ်၊ ရက-၆(က)/မ-၉၉၇/၂၀၀၈(၃၇၂၂)

၁။ ဗွတ်ဘရားသား(စ်)မစ်ရှင့်နရီကုမ္ပဏီလီမိတက်မှ မန္တလေးတိုင်း၊ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးစက်မှုတိုးချဲ့ဇုန်၊ စက်မှုမြေကွက်အမှတ် နန-၄၆/၁ နှင့် နန-၄၆/၂၊ဧရိယာ(၆.၂၆)ဧက ရှိမြေတွင် စက်ရုံတည်ဆောက်ပြီး စပါးရိတ်သိမ်းချွေလှေ့စက်ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုလွှာ တင်ပြလာပါ၍ဖော်ပြပါနေရာတွင်အဆိုပြုလုပ်ငန်းကိုဆောင်ရွက်ရန် “သင့်-မသင့်”နှင့် အဆိုပါမြေနေရာတွင်လုပ်ငန်းဆောင်ရွက်နေခြင်း“ရှိ-မရှိ” စိစစ်ပြန်ကြားပေးပါရန်ရည်ညွှန်း ပါစာဖြင့်ညှိနှိုင်းခဲ့ပါသည်။

၂။ အဆိုပါမြေများသည် မန္တလေးမြို့၊ မြို့ကွက်သစ်ဖော်ထုတ်ရေးလုပ်ငန်းအဖွဲ့မှ ဗွတ်ဘရားသား(စ်)မစ်ရှင်နရီကုမ္ပဏီလီမိတက်အား စက်မှုလုပ်ငန်းလုပ်ကိုင်ရန် ချထားပေးသည့် မြေများဖြစ်၍ အဆိုပြုလုပ်ငန်းဆောင်ရွက်မည့်အပေါ် ကန့်ကွက်ရန်မရှိပါ။ လုပ်ငန်းဆောင်ရွက်နေခြင်း ရှိ-မရှိနှင့်ပတ်သက်၍ ဒိစစ်ရာတွင် ဗွတ်ဘရားသား(စ်)ကုမ္ပဏီသည် အဆိုပါမြေပေါ်၌ လုပ်ငန်း ဆောင်ရွက်နေမှုမရှိသေးကြောင်း၊ ဝင်းခတ်ပြီး အဆောက်အဦဆောက်လုပ်ရန်အုတ်မြစ်ချပြီး အခင့်သာ ရှိကြောင်း၊ ဓါတ်ပုံ၊ ဆောက်လုပ်မည့်အဆောက်အဦပုံတို့နှင့်အတူပြန်ကြားအပ်ပါသည်။

ဥက္ကဋ္ဌ( )
(စန်းမောင်၊တွဲဖက်အတွင်းရေးမှူး)

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ် (၂) စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၃၃-၂၈၂(၃)၂၀၀၈(၃၂၇/က)
ရက်စွဲ၊ ၂၀၀၈ခုနှစ်၊ ဧပြီလ( ၈ )ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**အကြောင်းအရာ ။ ။ ဂွတ်ဘရားသား(စ်)မစ်ရှင်နရီ ကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုရန်၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြသည့် စပါးရိတ်သိမ်း ခြွေလှေ့စက်ထုတ်လုပ်ခြင်းလုပ်ငန်း ရင်းနှီးမြှုပ်နှံမှုအပေါ် သဘောထား မှတ်ချက် တောင်းခံလာသည့်ကိစ္စ။**

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၀.၂.၂၀၀၈) ရက်စွဲပါ စာအမှတ် ရက-၆(က)/မ-၉၉၇/၂၀၀၈(၃၇၂၁)

၁။ မန္တလေးစက်မှုဇုန် ဂွတ်ဘရားသား(စ်) မစ်ရှင်နရီကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြသည့် စပါးရိတ်သိမ်းခြွေလှေ့စက်ထုတ်လုပ်ခြင်းလုပ်ငန်း စီမံကိန်း အဆိုပြုချက်နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာဖြင့် အမှတ် (၂) စက်မှုဝန်ကြီးဌာနသို့ အောက်ပါအချက်များ စိစစ်ပြန်ကြားပေးရန်နှင့် လုပ်ငန်းကျွမ်းကျင်မှု နည်းပညာရပ်ပိုင်းဆိုင်ရာအချက်အလက်များကို အထူးပြုပြန်ကြားပေးရန် အကြောင်းကြားခဲ့ပါသည်။

(က) ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုအချိုးအစားညီညွတ်မှု ရှိ-မရှိ
(ခ) စက်ပစ္စည်းဈေးနှုန်းများနှင့် ကုန်ချောဈေးနှုန်းများ တင်ပြမှုသည် ဆီလျော်မှု ရှိ-မရှိ
(ဂ) နှစ်စဉ်ထုတ်လုပ်မှုနှင့်စက်အင်အားအချိုးအစားညီမျှမှု ရှိ-မရှိ

၂။ ယင်းကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အား သဘောထားမှတ်ချက်ကို အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည်။

(က) ကုန်ကြမ်းလိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှုအမျိုးအစား ညီညွတ်မှု ရှိ-မရှိ

ကုန်ကြမ်းလိုအပ်ချက်စာရင်း ၁၀နှစ်စာကိုနောက်ဆက်တွဲ (Exhibit No. IV) ပါစာရင်းအရ အစီးရေ(၃၀၀) စာ အတွက်လိုအပ်ချက် ငွေပမာဏမှာ ကျပ်သိန်း ၂၈,၅၀၀ ဖြစ်ကြောင်း တွေ့ရှိရပါသည်။

ကုန်ချောထုတ်လုပ်မှုအမျိုးအစားအားစိစစ်ကြည့်ရာ အစီးရေ (၃၀၀) ထုတ်လုပ်ရောင်းချပါက ရရှိမည့်ဝင်ငွေမှာကျပ်သိန်း (၃၆,၀၀၀) ရရှိမည်ဖြစ်ပြီး၊ အကြမ်းအမြတ်အနေဖြင့် ကျပ်သိန်း(၄,၆၅၀)၊ အသားတင်အမြတ်အနေဖြင့် ကျပ်သိန်း (၁၆၂၆)ရရှိကြောင်း နောက်ဆက်တွဲ (Exhibit No. V ,VI & VII ) အရ စိစစ်တွေ့ရှိရပါသည်။ ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အမျိုးအစားညီညွတ်မှုရှိသည် ဟုသုံးသပ်ပါသည်။

(ခ) စက်ပစ္စည်းဈေးနှုန်းနှင့် ကုန်ချောဈေးနှုန်းများ တင်ပြမှုသည် ဆီလျော်မှု ရှိ-မရှိ

စပါးရိတ်သိမ်းခြွေလှေ့စက်ထုတ်လုပ်ရေးအတွက် လိုအပ်သောစက်ပစ္စည်း ဈေးနှုန်းများကို နောက်ဆက်တွဲ (Exhibit No. III)ဖြင့် ဖော်ပြထားပါသည်။ စက်ပစ္စည်းများကို Good Brother Co., Ltd. မှ ပြည်တွင်းကျပ်ငွေဖြင့် ဝယ်ယူမည်ဖြစ်ကြောင်း၊ စက်ပစ္စည်းများ အသစ်ဖြစ်ကြောင်း ဖော်ပြထားရာတွင် Transformer ဈေးနှုန်းမှ လွဲ၍ကျန်စက်ပစ္စည်းဈေးနှုန်းများသည် ဆီလျော်သင့်လျော်သော ဈေးနှုန်းများဖြစ်ကြောင်းသုံးသပ်ပါသည်။ အထက်ပါ စက်ပစ္စည်းဝယ်ယူမှု စာရင်းတွင် Transformer မှလွဲ၍ အခြားလျှပ်စစ်ဆက်သွယ်မှုလုပ်ငန်းများနှင့် ပတ်သက်သော ဈေးနှုန်းဖော်ပြထားခြင်းမရှိပါ၍ ယင်းဈေးနှုန်းသည် Transformer အပြင် လျှပ်စစ်ပါဝါရရှိရန် Vacuum Circuit Breakerနှင့် စက်ရုံလျှပ်စစ်ဆက်သွယ်မှုများ အပါဝင် ဈေးနှုန်းဖြစ်ပါက သင့်လျော်မှန်ကန်သော ဈေးနှုန်းဖြစ်သည်ဟု သုံးသပ်ပါသည်။

ကုန်ကြမ်းများဝယ်ယူမည့် ဈေးနှုန်းများမှာ ဆီလျော်သင့်လျော်သော ဈေးနှုန်းဖြစ်ကြောင်း သုံးသပ်ပါသည်။

အထက်ပါဈေးနှုန်းအပေါ် အခြေခံ၍တွက်ရှိလာသော ကုန်ချောဈေးနှုန်းများ သတ်မှတ်တွက်ချက်ထားသဖြင့် ဆီလျော်မှုရှိကြောင်းသုံးသပ်ပါသည်။

(ဂ) နှစ်စဉ်ထုတ်လုပ်မှုနှင့်စက်အင်အားအချိုးအစားညီမျှမှုရှိ-မရှိ

လောလောဆယ်တွင် Good Brother Machinery Co., Ltd. မှလက်ရှိစက်ပစ္စည်းများနှင့် အစီးရေ (၃၀)စာကို စတင်စမ်းသပ်ထုတ်မည်ဖြစ်ကြောင်း၊ ဝယ်ယူတပ်ဆင်မည့်စက်များ အသုံးပြုနိုင်ပါက (၂၀၀၉-၂၀၁၀) ဘဏ္ဍာရေးနှစ်မှစ၍ အစီးရ(၃၀၀)စတင်ထုတ်လုပ်မည်ဖြစ်ကြောင်း ဖော်ပြပါရှိရာ နှစ်စဉ် ထုတ်လုပ်မှုနှင့် စက်အင်အားအချိုးအစား ညီမျှမှုရှိကြောင်းသုံးသပ်ပါသည်။

(ဃ) စပါးရိတ်သိမ်းခြွေလှေ့စက် ထုတ်လုပ်ရေးနှင့်ပတ်သက်၍ လိုအပ်သောကျွမ်းကျင်မှုနည်းပညာပိုင်း ဆိုင်ရာ အချက်အလက်များ

တရုတ်ကျွမ်းကျင်းပညာရှင် (၃)ဦး ကိုခေါ်ယူ၍ စက်ရုံတွင်အချိန်ပြည့်ထားရှိပြီးအနီးကပ်ကြီးကြပ် ဆောင်ရွက်စေလျက်ရှိကြောင်း၊ ၎င်းတို့နှင့်ပူးတွဲ၍ပြည်တွင်းမှ BE ဘွဲ့ရဝန်ထမ်းအင်ဂျင်နီယာ(၂)ဦး၊ AGTI ဒီပလိုမာရ (၁)ဦးနှင့်ကျွမ်းကျင်ဝန်ထမ်းများကိုလေ့လာသင်ကြားစေပြီး လက်တွေ့ထုတ်လုပ် ဆောင်ရွက် လျက်ရှိကြောင်း သိရှိရပါသည်။ နမူနာ စမ်းသပ် ထုတ်လုပ် ထားသောစပါးရိတ်သိမ်းခြွေလှေ့စက် တစ်စီးကို မုံရွာ၊ ရွှေဘိုမြို့များရှိ စပါးစိုက်ခင်းများနှင့် ဂျုံစိုက်ခင်းများသို့ ပို့ဆောင်၍ လက်တွေ့မောင်းနှင်ရိတ်သိမ်းခြွေလှေ့သရုပ်ပြခြင်း၊ စမ်းသပ်ခြင်းများပြုလုပ်လျက်ရှိပြီး၊ တောင်သူဦးကြီးများထံမှ သိရှိရသော လိုအပ်ချက်များ၊ စက်ပစ္စည်းနည်းပညာရပ်ပိုင်းဆိုင်ရာလိုအပ်ချက်များကိုမှတ်သား၍ ပြင်ဆင်သင့်သည်များပြင်ဆင်ပြီး ထပ်မံစမ်းသပ်ထုတ်လုပ်ဆောင်ရွက်ပေးလျက်ရှိကြောင်းသိရှိရ၍ နည်းပညာရပ်ပိုင်းဆိုင်ရာတွင် ပြည့်စုံလုံလောက်မှုရှိပါကြောင်း သုံးသပ်ပါသည်။

(signature)

ဝန်ကြီး(ကိုယ်စား)

(ဒုတိယဗိုလ်မှူးကြီးခင်မောင်ကျော်၊ဒုတိယဝန်ကြီး)

မိတ္တူကို

(၁) မြန်မာ့စက်မှုလုပ်ငန်းများစီမံကိန်းညွှန်ကြားမှုဦးစီးဌာန

(၂) ဝွတ်ဘရားသားစ်မစ်ရှင်နရီကုမ္ပဏီလီမိတက်

(၃) ရုံးလက်ခံ

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရကာ-၆(ခ) /မ- ၁၄၄၈ / ၂၀၀၈(၈၁၉၉)
ရက်စွဲ၊ ၂၀၀၇ခုနှစ် ၊ မေ လ ၂၇ ရက်။

ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်
အမှာစာ

အကြောင်းအရာ။ ။ ဂွတ်(ဒ်)ဘရားသား(စ်)မစ်ရှင်နရီကုမ္ပဏီလီမိတက်(Good Brothers Machineries Co., Ltd ) မှ စပါးရိတ်သိမ်းခြွေလှေ့စက် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ဂွတ်(ဒ်) ဘရားသား(စ်) မစ်ရှင်နရီ ကုမ္ပဏီလီမိတက် သည် ကုမ္ပဏီ၏ အမည်ဖြင့် မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီမှ အသုံးပြုခွင့် ရရှိထားသော အမှတ် နန-၄၆/၁၊ နန-၄၆/၂၊ စက်မှုတိုးချဲ့ဇုန်၊ မန္တလေးစက်မှုဇုန်၊ ပြည်ကြီးတံခွန် မြို့နယ်၊ မန္တလေး တိုင်း ရှိ စက်မှုမြေ (၆.၂၆) ဧက ( ၂၅၃၃၃.၃၄ စတုရန်းမီတာ ) တွင် စပါးရိတ်သိမ်းခြွေလှေ့စက် ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ အဆိုပြုချက်ကို နောက်ဆက်တွဲ (၁) ဖြင့် တင်ပြထားပါသည်။

၂။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ ကျပ်(၁၂၀၄.၀၀)သန်း ဖြစ်ပါသည်။ ယင်းတွင် ငွေပမာဏ ကျပ်(၃၁.၀၀)သန်း၊ စက်ပစ္စည်းကိရိယာများ တန်ဖိုး ကျပ်(၇၅၃.၀၀)သန်း၊ ကုန်ကြမ်း ပစ္စည်းများ တန်ဖိုး ကျပ်(၂၈၅.၀၀)သန်း၊ အဆောက်အဦ တန်ဖိုး ကျပ်(၁၁၃.၀၀)သန်းနှင့် မြေတန်ဖိုး ကျပ် (၂၂.၀၀) သန်း ထည့်ဝင်ရင်းနှီးမည် ဖြစ်ပါသည်။ လုပ်ငန်းအတွက် အသုံးပြုရန် လိုအပ်သော စက်ပစ္စည်းများနှင့် စပါးရိတ်သိမ်းခြွေလှေ့စက် ထုတ်လုပ်ရန် နှစ်စဉ်လိုအပ်မည့် အင်ဂျင်၊ ဂီယာ ဘောက်၊ ရာဘာ ချိန်းဘဲလ်၊ သံလုံး၊ သံပြားများကို ၎င်း၏ ညီနောင် ကုမ္ပဏီဖြစ်သော Good Brothers Co., Ltd. မှ တာဝန်ယူတင်သွင်းပေးမည်ဖြစ်ကြောင်းနှင့် Good Brothers Co., Ltd. ၏ မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်ရှိ နိုင်ငံခြားငွေလက်ကျန်ကို တင်ပြ ထားပါသည်။

၃။ အဆိုပြုလုပ်ငန်းမှ ပုံမှန်နှစ်တွင် စပါးရိတ်သိမ်းခြွေလှေ့စက် (၃၅၀) ယူနစ် ထုတ်လုပ် မည်ဖြစ်ပြီး ပြည်တွင်း၌(၁၀၀)ရာခိုင်နှုန်း ရောင်းချမည်ဖြစ်ပါသည်။ တစ်ယူနစ် ရောင်းဈေးနှုန်းမှာ ကျပ် (၁၂.၈၀)သန်း ဖြစ်ပါသည်။

၄။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင်ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေ မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(ကျပ်သန်း)

(က) ဝင်ငွေ ၄၄၈၀.၀၀
(ခ) အသုံးစရိတ် ၄၂၀၇.၀၀
(ဂ) အသားတင်အမြတ် ၂၇၃.၀၀

၅။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၄)နှစ် နှင့် (၃)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၂၂.၁၀) ရာခိုင်နှုန်း ဖြစ်ပါသည်။

၆။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(က) ဝင်ငွေခွန် ကျပ် ၁၁၇.၀၀ သန်း
(ခ) ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၄၄၈.၀၀ သန်း

၇။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှလုပ်သား (၅၆)ဦး ခန့်ထားမည် ဖြစ်ပါသည်။

၈။ ယင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဝန်ကြီးဌာနများ သို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားထားပါသည်။

- အမှတ်(၂) လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ လုပ်ငန်းအတွက်လိုအပ်သော လျှပ်စစ်ဓါတ်အား ဖြန့်ဖြူးပေးနိုင်ပါကြောင်း၊
- မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီမှ အဆိုပြုတင်ပြချက်ပါ မြေများသည် မန္တလေးမြို့၊ မြို့ကွက်သစ်ဖော်ထုတ်ရေး လုပ်ငန်း အဖွဲ့မှ ကုမ္ပဏီအား စက်မှုလုပ်ငန်း လုပ်ကိုင်ရန် ချထားပေးသော မြေများဖြစ်၍ ကန့်ကွက်ရန်မရှိကြောင်း၊ ကုမ္ပဏီ အနေဖြင့် လုပ်ငန်းဆောင်ရွက်နေမှု မရှိသေးကြောင်း၊ ဝင်းခတ်ပြီး အဆောက်အဦ ဆောက်လုပ်ရန် အုတ်မြစ်ချပြီး အဆင့်သာရှိကြောင်း၊
- အမှတ်(၂) စက်မှုဝန်ကြီးဌာန မှ ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှုရှိကြောင်း၊ စက်ပစ္စည်းဈေးနှုန်းနှင့် ကုန်ချောဈေးနှုန်းများ တင်ပြထားမှုသည် ဆီလျော်မှုရှိကြောင်း၊ နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား အချိုး အစား ညီမျှမှုရှိကြောင်း၊ နည်းပညာရပ်ပိုင်းဆိုင်ရာ ပြည့်စုံလုံလောက်မှု ရှိပါကြောင်း၊

ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ
ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

# အဆိုပြုချက်

ဂွတ်(ဒ်) ဘရားသား (စ်) မစ်ရှင်နရီ ကုမ္ပဏီ လီမိတက်

❂❂❂❂❂❂❂❂❂❂❂❂❂❂

**PROPOSAL OF THE INVESTOR TO MAKE MYANMAR CITIZENS INVESTMENT IN THE UNION OF MYANMAR**

**GOOD BROTHERS MACHINERIES COMPANY LIMITED**

**GOOD BROTHERS MACHINERIES CO., LTD.**

**ဂွတ်(ဒ်)ဘရားသား(စ်)မစ်ရှင်နရီကုမ္ပဏီလီမိတက်**

NO. 22, BAYINT NAUNG ROAD, THIRIMON HOUSING, HLAING TOWNSHIP, YANGON, MYANMAR.

☎ : (0951) 682157, 682147, 681983, 681667, 682799 FAX : (0951) 681413

E-MAIL : GBSYGN@MPTMAIL.NET.MM

GOOD BROTHERS MACHINERIES CO., LTD
No.............
Date............

Date : ..........................

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

ရက်စွဲ။ ။ ၂၀၀၇ ခုနှစ်၊ ဇွန်လ ( ၂၆ ) ရက်၊

**အကြောင်းအရာ။** ။ **<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များ ဆက်လက်ပေးပို့ခြင်း။</u>**

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့၏ **GOOD BROTHERS MACHINERIES CO., LTD.** သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် စပါးရိတ်သိမ်းခြွေလှေ့စက်ထုတ်လုပ်သည့်စက်ရုံကို တည်ဆောက်၍ လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

ထိုသို့တင်ပြလျှောက်ထားရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အစည်းအဝေးမှ ဆုံးဖြတ်ချက်အရ ပြည်ထောင်စုမြန်မာနိုင်ငံအစိုးရအဖွဲ့အစည်းအဝေးသို့ ဆက်လက်တင်ပြခွင့်ပြုချက်ရယူနိုင်ရန်အတွက် ကျွန်တော်တို့၏အဆိုပြုလွှာ ( ၁၆ ) စုံကို ပေးပို့တင်ပြအပ်ပါသည်။

ရို သေ လေး စား စွာ ဖြင့်

( ဦးမောင်အေး (ခ) ဦးလီကျန် )
အုပ်ချုပ်မှုဒါရိုက်တာ
GOOD BROTHERS MACHINERIES CO., LTD.

မိတ္တူ


**GOOD BROTHERS MACHINERIES CO., LTD.**

**ဂွတ်(ဒ်)ဘရားသား(စ်)မစ်ရှင်နရီကုမ္ပဏီလီမိတက်**

NO. 22, BAYINT NAUNG ROAD, THIRIMON HOUSING, HLAING TOWNSHIP, YANGON, MYANMAR.

☎ : (0951) 682157, 682147, 681983, 681667, 682799 FAX : (0951) 681413

E-MAIL : GBSYGN@MPTMAIL.NET.MM


Date : ...........................

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

GOOD BROTHERS MACHINERIES CO., LTD. No........ Date........

ရက်စွဲ။ ။ ၂၀၀၈ ခုနှစ်၊ ဧပြီလ ( ၂၄ ) ရက်၊

**အကြောင်းအရာ။** ။ **<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များ ဆက်လက်ပေးပို့ခြင်း။</u>**

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့၏ **GOOD BROTHERS MACHINERIES CO., LTD.** သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် စပါးရိတ်သိမ်းခြွေလှေ့စက် ထုတ်လုပ်သည့်စက်ရုံကို တည်ဆောက်၍ လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုမိန့်လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

အကြိုစီစစ်ရန်တင်ပြထားသောအဆိုပြုချက်မှ ပြန်လည်ပြင်ဆင်ညှိနှိုင်းရန်ရှိသောအချက်များကို ပြန်လည်ပြင်ဆင်မှုများပြုလုပ်ထားပြီးဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ လိုအပ်သလိုဆက်လက် စီစဉ်ဆောင်ရွက်နိုင်ရန်အတွက် ကျွန်တော်တို့၏အဆိုပြုလွှာ ( ၂၈ ) စုံကို ပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

( ဦးမောင်အေး (ခ) ဦးလီကျန် )
အုပ်ချုပ်မှုဒါရိုက်တာ
GOOD BROTHERS MACHINERIES CO., LTD.

မိတ္တူ

လျှို့ဝှက်

၃


GBS

**GOOD BROTHERS MACHINERIES CO., LTD.**

**ဂွတ်(ဒ်)ဘရားသား(စ်)မစ်ရှင်နရီကုမ္ပဏီလီမိတက်**

NO. 22, BAYINT NAUNG ROAD, THIRIMON HOUSING, HLAING TOWNSHIP, YANGON, MYANMAR.

☎ : (0951) 682157, 682147, 681983, 681667, 682799 FAX : (0951) 681413

E-MAIL : GBSYGN@MPTMAIL.NET.MM


Date : ..........................

GOOD BROTHERS MACHINERIES CO., LTD. No.............. Date...........

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

ရက်စွဲ။ ။ ၂၀၀၈ ခုနှစ်၊ မတ်လ (၂၇) ရက်။

**အကြောင်းအရာ။** ။**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အချက်အလက်များ ဆက်လက် ပေးပို့ခြင်း။**

ရည်ညွှန်းချက်။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁-၂-၂၀၀၈ နေ့စွဲပါ စာအမှတ် ရက-၆(က)/မ-၉၈၈/၂၀၀၈(၃၈၆၄-ခ)။

အထက်ပါရည်ညွှန်းချက်ပါစာအရ ကျွန်တော်တို့၏ GOOD BROTHERS MACHINERIES CO., LTD. သို့ လိုအပ်ချက်များအားဆက်လက်ပေးပို့ရန် အကြောင်းကြားလာသဖြင့် အောက်ပါအတိုင်း တင်ပြအပ်ပါသည်။

(က) စက်ပစ္စည်းများနှင့် ကုန်ကြမ်းများကို တင်သွင်းပေးမည့် ဂွတ်ဘရားသား(စ်) ကုမ္ပဏီ လီမိတက်၏ လုံလောက်သည့်နိုင်ငံခြားငွေ အထောက်အထား ( Export Earning ) နှင့်ပတ်သက်၍ ယင်းကုမ္ပဏီ၏ဘဏ်ရှင်းတမ်းမိတ္တူ ( ၂၀၀၇ခုနှစ်၊ အောက်တိုဘာလ မှ ၂၀၀၈ခုနှစ်၊ ဇန်နဝါရီလအထိ) များကိုပူးတွဲ(၁)ဖြင့် တင်ပြအပ်ပါသည်။ ဂွတ်ဘရားသား(စ်) ကုမ္ပဏီလီမိတက်သည် ၂၀၀၇ခုနှစ်၊ ဧပြီလ မှ ၂၀၀၈ခုနှစ်၊ ဇန်နဝါရီလအထိ ငါးပုစွန် နှင့် ပဲအမျိုးမျိုးကို နိုင်ငံခြားသို့ တရားဝင်တင်ပို့ခြင်းဖြင့် နိုင်ငံခြားဝင်ငွေ အမေရိကန်ဒေါ်လာ သိန်းပေါင်း (၁၂၄) သိန်းကျော် ရရှိခဲ့ပါသည်။

(ခ) အလုပ်သမားများအားအမှန်တကယ်ပေးချေရမည့် လုပ်ခ၊ လစာ စာရင်းကို ပူးတွဲ(၂)ဖြင့် တင်ပြအပ်ပါသည်။

လေး စား စွာ ဖြင့်

( ဦးမောင်အေး (ခ) ဦးလီကျန် )
အုပ်ချုပ်မှုဒါရိုက်တာ
GOOD BROTHERS MACHINERIES CO., LTD.

လျှို့ဝှက်

GBS

**GOOD BROTHERS MACHINERIES CO., LTD.**

**ဂွတ်(ဒ်)ဘရားသား(စ်)မစ်ရှင်နရီကုမ္ပဏီလီမိတက်**

NO. 22, BAYINT NAUNG ROAD, THIRIMON HOUSING, HLAING TOWNSHIP, YANGON, MYANMAR.

☎ : (0951) 682157, 682147, 681983, 681667, 682799 FAX : (0951) 681413

E-MAIL : GBSYGN@MPTMAIL.NET.MM

Date : ..........................

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

ရက်စွဲ။ ။ ၂၀၀၈ ခုနှစ်၊ ဖေဖော်ဝါရီလ ( ၄ ) ရက်။

**အကြောင်းအရာ။** ။**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။**

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့၏ GOOD BROTHERS MACHINERIES CO., LTD. သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် စပါးရိတ်သိမ်းခြွေလှေ့စက် ထုတ်လုပ်သည့်စက်ရုံကို တည်ဆောက်၍ လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ကျွန်တော်တို့၏ အဆိုပြုလွှာကို လိုအပ်သလို စီစစ်ပေးနိုင်ရန် အတွက် အဆိုပြုလွှာ (၁၂) စုံကို ပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

( ဦးမောင်အေး (ခ) ဦးလီကျန် )
အုပ်ချုပ်မှုဒါရိုက်တာ
GOOD BROTHERS MACHINERIES CO., LTD.

GBS

**GOOD BROTHERS MACHINERIES CO., LTD.**

ဂွတ်(ဒ်)ဘရားသား(စ်)မစ်ရှင်နရီကုမ္ပဏီလီမိတက်

NO. 22, BAYINT NAUNG ROAD, THIRIMON HOUSING, HLAING TOWNSHIP, YANGON, MYANMAR.

☎ : (0951) 682157, 682147, 681983, 681667, 682799 FAX : (0951) 681413

E-MAIL : GBSYGN@MPTMAIL.NET.MM

Date : ..........................

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

ရက်စွဲ။ ။ ၂၀၀၈ ခုနှစ်၊ ဖေဖော်ဝါရီလ ( ၄ ) ရက်။

**အကြောင်းအရာ။** **။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ ကတိခံဝန်ချက်များ ပေးပို့ခြင်း။**

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့၏ **GOOD BROTHERS MACHINERIES CO., LTD.** အနေဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် စပါးရိတ်သိမ်းခြွေလှေ့စက် ထုတ်လုပ်သည့်စက်ရုံကို တည်ဆောက်၍ လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့် လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။ ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းတွင်နိုင်ငံခြားမှ မည်သူမှ ပိုင်ဆိုင်မှုမရှိကြောင်းနှင့် အောက်ပါအချက်များကို သိရှိလိုက်နာမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

၁။ ကျွန်တော်တို့ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်းပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ ကြိုတင်ကာကွယ်မှုများပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ကြောင်းနှင့် မီးဘေးကြိုတင်ကာကွယ်မှုများ ပြုလုပ်၍ လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၂။ **GOOD BROTHERS MACHINERIES CO., LTD.** သည်လုပ်ငန်းအတွက် ပြည်တွင်းမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများကို မြန်မာကျပ်ငွေဖြင့် **GOOD BROTHERS CO., LTD.** မှ ဝယ်ယူတင်သွင်းမည်ဖြစ်ပါသည်။

၃။ ထို့အပြင် နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

၄။ ယခုအဆိုပြုတင်ပြသည့်လုပ်ငန်းသည် တခါမှုမလုပ်ကိုင်ဘူးသေးသောလုပ်ငန်းသစ် ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၅။ ထွက်ကုန်ပစ္စည်းများကို ကိုယ်ပိုင်အမှတ်တံဆိပ်ဖြင့်ထုတ်လုပ်ဖြန့်ချီသွားမည် ဖြစ်ပါသည်။

ရို သေ လေး စား စွာ ဖြင့်

( ဦးမောင်အေး (ခ) ဦးလီကျန် )
အုပ်ချုပ်မှုဒါရိုက်တာ
GOOD BROTHERS MACHINERIES CO., LTD.

**GOOD BROTHERS MACHINERIES CO., LTD.**

**ဂွတ်(ဒ်)ဘရားသား(စ်)မစ်ရှင်နရီကုမ္ပဏီလီမိတက်**

NO. 22, BAYINT NAUNG ROAD, THIRIMON HOUSING, HLAING TOWNSHIP, YANGON, MYANMAR.

☎ : (0951) 682157, 682147, 681983, 681667, 682799 FAX : (0951) 681413

E-MAIL : GBSYGN@MPTMAIL.NET.MM


GOOD BROTHERS MACHINERIES CO., LTD

No...............

Date...........

Date : ...........................

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

ရက်စွဲ။ ။ ၂၀၀၈ ခုနှစ်၊ ဇွန်လ (၂၆) ရက်၊

**အကြောင်းအရာ။** ။ <u>**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များ ဆက်လက်ပေးပို့ခြင်း။**</u>

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့၏ **GOOD BROTHERS MACHINERIES CO., LTD.** သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် စပါးရိတ်သိမ်းခြွေလှေ့စက်ထုတ်လုပ်သည့်စက်ရုံကို တည်ဆောက်၍ လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

ထိုသို့တင်ပြလျှောက်ထားရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အစည်းအဝေးမှ ဆုံးဖြတ်ချက်အရ ပြည်ထောင်စုမြန်မာနိုင်ငံအစိုးရအဖွဲ့အစည်းအဝေးသို့ ဆက်လက်တင်ပြခွင့်ပြုချက်ရယူနိုင်ရန်အတွက် ကျွန်တော်တို့၏အဆိုပြုလွှာ ( ၁၆ ) စုံကို ပေးပို့တင်ပြအပ်ပါသည်။

ရို သေ လေး စား စွာ ဖြင့်

( ဦးမောင်အေး (ခ) ဦးလီကျန် )
အုပ်ချုပ်မှုဒါရိုက်တာ
**GOOD BROTHERS MACHINERIES CO., LTD.**

လျှို့ဝှက်

**GOOD BROTHERS MACHINERIES CO., LTD.**

**ဂွတ်(ဒ်)ဘရားသား(စ်)မစ်ရှင်နရီကုမ္ပဏီလီမိတက်**

NO. 22, BAYINT NAUNG ROAD, THIRIMON HOUSING, HLAING TOWNSHIP, YANGON, MYANMAR.

☎ : (0951) 682157, 682147, 681983, 681667, 682799 FAX : (0951) 681413

E-MAIL : GBSYGN@MPTMAIL.NET.MM

Date : ..........................

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်၊

ပြည်ထောင်စုမြန်မာနိုင်ငံတော်။

ရက်စွဲ။ ။ ၂၀၀၇ ခုနှစ်၊ ဧပြီလ ( ၂၄ ) ရက်၊

**အကြောင်းအရာ။** ။ **<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များ ဆက်လက်ပေးပို့ခြင်း။</u>**

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့၏ **GOOD BROTHERS MACHINERIES CO., LTD.** သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် စပါးရိတ်သိမ်းခြွေလှေ့စက် ထုတ်လုပ်သည့်စက်ရုံကို တည်ဆောက်၍ လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုမိန့်လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

အကြိုစိစစ်ရန်တင်ပြထားသောအဆိုပြုချက်မှ ပြန်လည်ပြင်ဆင်ညှိနှိုင်းရန်ရှိသောအချက်များကို ပြန်လည်ပြင်ဆင်မှုများပြုလုပ်ထားပြီးဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ လိုအပ်သလိုဆက်လက် စီစဉ်ဆောင်ရွက်နိုင်ရန်အတွက် ကျွန်တော်တို့၏အဆိုပြုလွှာ ( ၂၈ ) စုံကို ပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

( ဦးမောင်အေး (ခ) ဦးလီကျန် )

အုပ်ချုပ်မှုဒါရိုက်တာ

GOOD BROTHERS MACHINERIES CO., LTD.

လျှို့ဝှက်

လျှို့ဝှက်

၃


# GOOD BROTHERS MACHINERIES CO., LTD.
# ဂွတ်(ဒ်)ဘရားသား(စ်)မစ်ရှင်နရီကုမ္ပဏီလီမိတက်

NO. 22, BAYINT NAUNG ROAD, THIRIMON HOUSING, HLAING TOWNSHIP, YANGON, MYANMAR.
☎ : (0951) 682157, 682147, 681983, 681667, 682799 FAX : (0951) 681413
E-MAIL : GBSYGN@MPTMAIL.NET.MM


Date : ..........................

GOOD BROTHERS MACHINERIES CO., LTD
No..............
Date...........

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

ရက်စွဲ။ ။ ၂၀၀၈ ခုနှစ်၊ မတ်လ (၂၇) ရက်။

**အကြောင်းအရာ။** ။**<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အချက်အလက်များ ဆက်လက် ပေးပို့ခြင်း။</u>**

ရည်ညွှန်းချက်။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁-၂-၂၀၀၈ နေ့စွဲပါ စာအမှတ် ရက-၆(က)/မ-၉၈၈/ ၂၀၀၈(၃၈၆၄-ခ)။

အထက်ပါရည်ညွှန်းချက်ပါစာအရ ကျွန်တော်တို့၏ GOOD BROTHERS MACHINERIES CO., LTD. သို့ လိုအပ်ချက်များအားဆက်လက်ပေးပို့ရန် အကြောင်းကြားလာသဖြင့် အောက်ပါအတိုင်း တင်ပြအပ်ပါသည်။

(က) စက်ပစ္စည်းများနှင့် ကုန်ကြမ်းများကို တင်သွင်းပေးမည့် ဂွတ်ဘရားသား(စ်) ကုမ္ပဏီ လီမိတက်၏ လုံလောက်သည့်နိုင်ငံခြားငွေ အထောက်အထား ( Export Earning ) နှင့်ပတ်သက်၍ ယင်းကုမ္ပဏီ၏ဘဏ်ရှင်းတမ်းမိတ္တူ ( ၂၀၀၇ခုနှစ်၊ အောက်တိုဘာလ မှ ၂၀၀၈ခုနှစ်၊ ဇန်နဝါရီလအထိ) များကိုပူးတွဲ(၁)ဖြင့် တင်ပြအပ်ပါသည်။ ဂွတ်ဘရားသား(စ်) ကုမ္ပဏီလီမိတက်သည် ၂၀၀၇ခုနှစ်၊ ဧပြီလ မှ ၂၀၀၈ခုနှစ်၊ ဇန်နဝါရီလအထိ ငါးပုဇွန် နှင့် ပဲအမျိုးမျိုးကို နိုင်ငံခြားသို့ တရားဝင်တင်ပို့ခြင်းဖြင့် နိုင်ငံခြားဝင်ငွေ အမေရိကန်ဒေါ်လာ သိန်းပေါင်း (၁၂၄) သိန်းကျော် ရရှိခဲ့ပါသည်။

(ခ) အလုပ်သမားများအားအမှန်တကယ်ပေးချေရမည့် လုပ်ခ၊ လစာ စာရင်းကို ပူးတွဲ(၂)ဖြင့် တင်ပြအပ်ပါသည်။

လေး စား စွာ ဖြင့်

( ဦးမောင်အေး (ခ) ဦးလီကျန် )
အုပ်ချုပ်မှုဒါရိုက်တာ
GOOD BROTHERS MACHINERIES CO., LTD.

လျှို့ဝှက်

လျှို့ဝှက်

၄

**GOOD BROTHERS MACHINERIES CO., LTD.**
**ဂွတ်(ဒ်)ဘရားသား(စ်)မစ်ရှင်နရီကုမ္ပဏီလီမိတက်**
NO. 22, BAYINT NAUNG ROAD, THIRIMON HOUSING, HLAING TOWNSHIP, YANGON, MYANMAR.
☎ : (0951) 682157, 682147, 681983, 681667, 682799 FAX : (0951) 681413
E-MAIL : GBSYGN@MPTMAIL.NET.MM

Date : ............................

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

ရက်စွဲ။ ။ ၂၀၀၈ ခုနှစ်၊ ဖေဖော်ဝါရီလ ( ၄ ) ရက်။

**အကြောင်းအရာ။** ။**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။**

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့၏ **GOOD BROTHERS MACHINERIES CO., LTD.** သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် စပါးရိတ်သိမ်းခြွေလှေ့စက် ထုတ်လုပ်သည့်စက်ရုံကို တည်ဆောက်၍ လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ကျွန်တော်တို့၏ အဆိုပြုလွှာကို လိုအပ်သလို စီစစ်ပေးနိုင်ရန် အတွက် အဆိုပြုလွှာ (၁၂) စုံကို ပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

( ဦးမောင်အေး (ခ) ဦးလီကျန် )
အုပ်ချုပ်မှုဒါရိုက်တာ
**GOOD BROTHERS MACHINERIES CO., LTD.**

လျှို့ဝှက်

GOOD BROTHERS MACHINERIES CO., LTD.
ဂွတ်(ဒ်)ဘရားသား(စ်)မစ်ရှင်နရီကုမ္ပဏီလီမိတက်
NO. 22, BAYINT NAUNG ROAD, THIRIMON HOUSING, HLAING TOWNSHIP, YANGON, MYANMAR.
☎ : (0951) 682157, 682147, 681983, 681667, 682799 FAX : (0951) 681413
E-MAIL : GBSYGN@MPTMAIL.NET.MM

Date : ..........................

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

ရက်စွဲ။ ။ ၂၀၀၈ ခုနှစ်၊ ဖေဖော်ဝါရီလ ( ၄ ) ရက်။

**အကြောင်းအရာ။** ။<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ ကတိခံဝန်ချက်များ ပေးပို့ခြင်း။</u>

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့၏ **GOOD BROTHERS MACHINERIES CO., LTD.** အနေဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် စပါးရိတ်သိမ်းခြွေလှေ့စက် ထုတ်လုပ်သည့်စက်ရုံကို တည်ဆောက်၍ လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့် လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။ ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းတွင်နိုင်ငံခြားမှ မည်သူမှ ပိုင်ဆိုင်မှုမရှိကြောင်းနှင့် အောက်ပါအချက်များကို သိရှိလိုက်နာမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

၁။ ကျွန်တော်တို့ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်းပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ ကြိုတင်ကာကွယ်မှုများပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ကြောင်းနှင့် မီးဘေးကြိုတင်ကာကွယ်မှုများ ပြုလုပ်၍ လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၂။ **GOOD BROTHERS MACHINERIES CO., LTD.** သည်လုပ်ငန်းအတွက် ပြည်တွင်းမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများကို မြန်မာကျပ်ငွေဖြင့် **GOOD BROTHERS CO., LTD.** မှ ဝယ်ယူတင်သွင်းမည်ဖြစ်ပါသည်။

၃။ ထို့အပြင် နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

၄။ ယခုအဆိုပြုတင်ပြသည့်လုပ်ငန်းသည် တခါမှမလုပ်ကိုင်ဘူးသေးသောလုပ်ငန်းသစ် ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၅။ ထွက်ကုန်ပစ္စည်းများကို ကိုယ်ပိုင်အမှတ်တံဆိပ်ဖြင့်ထုတ်လုပ်ဖြန့်ချီသွားမည် ဖြစ်ပါသည်။

ရို သေ လေး စား စွာ ဖြင့်

( ဦးမောင်အေး (ခ) ဦးလီကျန် )
အုပ်ချုပ်မှုဒါရိုက်တာ
GOOD BROTHERS MACHINERIES CO., LTD.

**GOOD BROTHERS MACHINERIES CO., LTD.**

**ဂွတ်(ဒ်)ဘရားသား(စ်)မစ်ရှင်နရီကုမ္ပဏီလီမိတက်**

NO. 22, BAYINT NAUNG ROAD, THIRIMON HOUSING, HLAING TOWNSHIP, YANGON, MYANMAR.

☎ : (0951) 682157, 682147, 681983, 681667, 682799 FAX : (0951) 681413

E-MAIL : GBSYGN@MPTMAIL.NET.MM

Date : ..........................

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

ရက်စွဲ။ ။ ၂၀၀၈ ခုနှစ်၊ ဖေဖော်ဝါရီလ ( ၄ ) ရက်။

**အကြောင်းအရာ။** ။**<u>ပြည်ထောင်စု မြန်မာနိုင်ငံတော်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့်သက်သာခွင့် များ လျှောက်ထားခြင်း။</u>**

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့၏ **GOOD BROTHERS MACHINERIES CO., LTD.** သည် လက်မှုစိုက်ပျိုးရေးနိုင်ငံမှ စက်မှုစိုက်ပျိုးရေးနိုင်ငံသို့ အသွင်ပြောင်းနေချိန်တွင် လိုအပ်သော စက်ပစ္စည်းကိရိယာများကို နိုင်ငံခြားမှတင်သွင်းနေရမှုအား သက်သာစေရန်ရည်ရွယ်၍ လယ်ယာကဏ္ဍတွင် မရှိမဖြစ်လိုအပ်သော စပါးရိတ်သိမ်းခြွေလှေ့စက် ထုတ်လုပ်သည့်စက်ရုံကို ပြည်တွင်း၌ မန္တလေးမြို့ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးစက်မှုတိုးချဲ့ဇုန်၊ စက်မှုမြေကွက်အမှတ် နန-၄၆/၁ နှင့် နန-၄၆/၂၊ မြေအကျယ် ၆.၂၆ဧက ရှိမြေနေရာတွင် စက်ရုံတည်ဆောက်ပြီး လုပ်ငန်းလုပ်ကိုင်ရန် ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့် လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

ကျွန်တော်တို့ကုမ္ပဏီလီမိတက်သည် စပါးရိတ်သိမ်းခြွေလှေ့စက်များ ထုတ်လုပ်ရန်အတွက် ကမ္ဘာ့အဆင့် အတန်းမီစက်ကိရိယာများနှင့်ကုန်ကြမ်းပစ္စည်းများကို ယခုလက်ရှိ ဒါရိုက်တာအဖွဲ့ဝင်များပါဝင်ဖွဲ့စည်းထားသည့် **GOOD BROTHERS CO., LTD.** မှ တရားဝင်ဝယ်ယူအသုံးပြုသွားမည် ဖြစ်ပါသည်။

ကျွန်တော်တို့၏ ကုမ္ပဏီလီမိတက်အနေဖြင့် ယခုအဆိုပြုလုပ်ငန်းအတွက် ရင်းနှီးငွေ စုစုပေါင်း (၁၂၀၄)သန်းကို မြန်မာနိုင်ငံ ကျပ်ငွေ၊ စက်ပစ္စည်းများ၊ အဆောက်အအုံ၊ ကုန်ကြမ်းပစ္စည်းကိရိယာများဖြင့် ထည့်ဝင်ပြီး ရင်းနှီးမြှုပ်နှံကြပါမည်။ ထုတ်လုပ်ဖြန့်ဖြူးရောင်း ချ၍ရရှိလာသော အမြတ်ငွေများကိုလည်း မြန်မာနိုင်ငံတော်အတွင်းအခြားခွင့်ပြုထားသည့် စီးပွားရေးလုပ်ငန်းများတွင် ပြန်လည်ရင်းနှီးမြှုပ်နှံသွားရန် ရည်ရွယ်ပါသည်။

သို့ဖြစ်ပါ၍ နိုင်ငံတော်အတွင်း ရသင့်ရထိုက်သောအခွန်ဘဏ္ဍာငွေများရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့်အလမ်းများရရှိစေရန်အတွက်လည်းကောင်း၊ စက်မှုနည်းပညာများတိုးပွားရရှိစေရန်အတွက်လည်းကောင်း၊ နိုင်ငံသားများ စီးပွားရေး ဖွံ့ဖြိုးတိုးတက်စေခြင်းအလို့ငှာလည်းကောင်း၊ ကျွန်တော်တို့ **GOOD BROTHERS MACHINERIES CO., LTD.** ၏ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့် လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန် နှင့် ပြည်ထောင်စုမြန်မာနိုင်ငံတော် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာကင်း လွတ်ခွင့်များနှင့်သက်သာခွင့်များကို လည်းပေးပါရန် ရိုသေလေးစားစွာဖြင့် လျှောက်ထားအပ်ပါသည်။

- ၂ - သို့

